## LIST OF MACHINERIES AND CONSTRUCTION MATERIALS

Exhibit N0 III

| SR. NO. | PARTICULARS | QTY | UNIT PRICE IN US$ | VALUE IN US$ |
|---|---|---|---|---|
| A. | **List of Construction Materials** | | | |
| 1 | Various Size of M.S Iron Rod | 1000 Tons | 300 | 300,000 |
| 2 | Cement | 5000 Tons | 80 | 400,000 |
| 3 | Decoration Materials | | - | 100,000 |
| | Sub-Total | | | 800,000 |
| B | **List of Machineries & Equipment** | | | |
| 1 | Lift | 6 Units | 40,000 | 240,000 |
| 2 | Air Conditioner | 60 Units | 1,000 | 60,000 |
| 3 | Machanical & Electrical Equipment | - | - | 50,000 |
| 4 | Motor Vehicles- Saloon/Wagon | 2 Units | 6,500 | 13,000 |
| 5 | Motor Vehicles- Tipper Truck | 2 Units | 8,500 | 17,000 |
| 6 | Motor Vehicles- Truck | 2 Units | 6,000 | 12,000 |
| 7 | Computer | 1 Unit | 4,000 | 4,000 |
| 8 | Photo Copying Machine | 1 Unit | 4,000 | 4,000 |
| | | | Sub Total | 400,000 |
| | | | Grand Total | 1,200,000 |

**Note : To be imported by Deferred Payment System.**

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

# အဆောက်အအုံလုပ်ငန်းလုပ်ကိုင်ခွင့် ကန်ထရိုက်တာလိုင်စင်

(ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ အင်ဂျင်နီယာဌာန (အဆောက်အအုံ) — စာအမှတ် ........ ရက်စွဲ ........)



စာအမှတ်၊ ၁၅၁၅/ လိုင်စင် / ယာ ( အုံ )
ရက်စွဲ ၊ ၁၉၉၇ ခုနှစ်၊ မေ လ၂၆ ရက်

ဦး/ဒေါ် လှမြင့် ၊ မှတ်ပုံတင်အမှတ်
၁၂/ကတတ(နိုင်) ၀၀၃၂၄၃ ၊ နေရပ် ၊အမှတ်( ၈၉/ပ-ထပ် )
၃၈ - လမ်း၊ — ရပ်ကွက်၊ ကျောက်တံတား မြို့နယ်၊
သည် အာမခံငွေကျပ် သိန်း ငါး ဆယ် တိတိကို ၁၉၂၂ ခုနှစ်၊ ရန်ကုန်မြို့တော်မြူနီစီပါယ် အက်ဥပဒေ ပုဒ်မ ( ၁ )၊ အခန်း ( ၆ )၊ ပဋိညာဉ်များဆိုင်ရာ နည်းဥပဒေ ( ၅ )အရ ခံဝန်ချုပ်အမှတ် ( ၁၂၁ / ၉၇ ) ဖြင့် ချုပ်ဆိုပြီးဖြစ်သည့်အပြင် သတ်မှတ်ထားသောနှစ်စဉ်ကြေး ကျပ် ၄၀၀၀၀/- (စာဖြင့် ကျပ် လေးသောင်း တိတိ/-)ကို ပေးသွင်းပြီးဖြစ်သဖြင့် ပူးတွဲပါကန်ထရိုက်တာ၏ တာဝန်၊ လုပ်ပိုင်ခွင့်၊ စည်းကမ်းများနှင့်အညီ ရန်ကုန်မြို့တော်စည်ပင်သာယာရေးနယ်နိမိတ်အတွင်း အဆောက်အအုံလုပ်ငန်းများ လုပ်ကိုင်ခွင့် ကန်ထရိုက်တာအဖြစ် ခွင့်ပြုလိုက်သည်။

ဤလိုင်စင်သည် ၁၉၉၈ ခုနှစ်၊ မတ်လ ၃၁ ရက်နေ့တွင် သက်တမ်းကုန်ဆုံးသည်။

လိုင်စင်အမှတ် 122-97/98

ဥက္ကဋ္ဌ (ကိုယ်စား)
[illegible]
အင်ဂျင်နီယာဌာန (အဆောက်အအုံ)
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

အင်ဂျင်နီယာဌာန (အဆောက်အအုံ)

# ၁၉၂၂-ခုနှစ်၊ ရန်ကုန်မြို့တော်မြူနီစီပါယ်အက်ဥပဒေ ဇယား(၁)၊ အခန်း(၆)၊ ပဋိညာဉ်များဆိုင်ရာ နည်းဥပဒေ(၅)အရ

# ခံဝန်ချုပ်

ခံဝန်ချုပ်အမှတ် ( 12 1/97 )

| | |
|---|---|
| ကန်ထရိုက်တာအမည်၊ | ဦး လှမြင့် |
| နိုင်ငံသား/အမျိုးသား၊ | YDN-003059 |
| မှတ်ပုံတင်အမှတ်၊ | ၁၂/ကမတ(နိုင်) ၀၀၃၂၄၃ |
| နေရပ်လိပ်စာ၊ | မှော်ဘွတ် (၈၉/ပထမ/၃၅)၊ |
| | ၃၈-လမ်း၊ |
| ဆက်သွယ်ရန်လိပ်စာ၊ | ၆ ကျောက်တံတား မြို့နယ် |
| | |
| တယ်လီဖုန်းအမှတ်၊ | 09-24981 / 287451 |
| ရက်စွဲ၊ | ၁၉၉၇ ခုနှစ် မေလ (၂၀)ရက် |

ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်

အမှတ် ......၁၂၆....... / ၁၉၉၃ -၁၉၉၄

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ တိုင်း ရင်း မေအင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် ...... အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်ကုမ္ပဏီ အဖြစ် ၁၉၉၃ ခုနှစ် ......မေ...... လ ......၁၇...... ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

( သိင်္ဂီတင် )

ကုမ္ပဏီများမှတ်ပုံတင်အရာရှိ

ကုမ္ပဏီများမှတ်ပုံတင်ရုံး

* * *

## THE GOVERNMENT OF THE UNION OF MYANMAR

**MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT**

**MINISTRY OF TRADE**

# CERTIFICATE OF INCORPORATION

**No.** .... .... .... 126 .... .... .... **of 19**93**-19**94

I hereby certify *that* .... TAING YIN MAY INTERNATIONAL .... COMPANY LIMITED .... .... .... *is this day incorporated under the Myanmar Companies Act, and that the Company is Limited.*

*Given under my hand at Yangon this* .... SEVENTEENTH .... *day of* .... MAY .... *one thousand nine hundred and* .... NINETY THREE ....

( THEINGI TIN )

Registrar of Joint Stock Companies

Companies Registration Office

FORM VI

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment from the 1st of October 1997.

on the of 19 of the * TAING YIN MAY INTERNATIONAL COMPANY LIMITED

Made pursuant to Section 104(1)

Number of the shares allotted payable in cash ..... 850 Shares

" " " " .....

Nominal amount of the shares so allotted ..... Ks.85,00000/-

" " " " .....

Amount paid or due and payable on each such share Ks.10000/-

" " " " (Fully paid up)

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted ....

Amount to be treated as paid on each such share ....

The consideration for which such share have been allotted is as folllows:-

---

NOTE: In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the word made substituted for the word "From" after the word "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

FORM XXVI

PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

( Myanmar Companies Act. (See Section 87 ))

Name of Company: TAING YIN MAY INTERNATIONAL COMPANY LIMITED

Presented by: U HLA MYINT

| The present Christian name or names or surnames | Nationality National Registration Card No. | Usual residential Address | Other Business occupation | Changes |
|---|---|---|---|---|
| 1. U HLA MYINT | MYANMAR 12/KA TA TA (NAING) 003243 | 89,38TH STREET, FIRST FLOOR, RIGHT KYAUKTADA TOWNSHIP, YANGON. | MERCHANT | Appointed as Managing Director on (23-5-93) |
| 2. DAW KHIN AYE KYI | MYANMAR 12/KA TA TA (NAING) 003244 | 89,38TH STREET, FIRST FLOOR, RIGHT KYAUKTADA TOWNSHIP, YANGON. | MERCHANT | Appointed as w. e. f. Director on (23-5-93) |
| 3. U THEIN HTAIK OO | MYANMAR 12/KA TA TA (NAING) 000453 | 89, 38TH STREET, FIRST FLOOR, RIGHT KYAUKTADA TOWNSHIP, YANGON. | MERCHANT | Appointed as w.e.f. Director on (23-5-93) |
| 4. U THAN HTAIK OO | MYANMAR 12/KA TA TA (NAING) 000454 | 89, 38TH STREET, FIRST FLOOR, RIGHT KYAUKTADA TOWNSHIP, YANGON. | MERCHANT | Appointed as w.e.f. Director on (23-5-93) |
| 5. U WIN HTAIK OO | MYANMAR 12/KA TA TA (NAING) 024953 | 89, 38TH STREET, FIRST FLOOR, RIGHT KYAUKTADA TOWNSHIP, YANGON. | MERCHANT | Appointed as w.e.f. Director on (23-5-93) |

NOTE: (1) A Complete list of the Directors or Managers of Managing Agents shown as existing in the last Particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of . . . . . . . . . . . " and by writing against any former Director's name the word "dead" "resigned" or as the case may be, giving the date of change against the entry.

Dated this . . . . . . . . 1-6-93 . . . . . . . .

Signature . . . . . . [signature] HLA MYINT . . . . . .

Designation . . . . MANAGING DIRECTOR . . . . . .

# TAING YIN MAY
## INTERNATIONAL CO., LTD.

No. 89 (Right), 1st Floor, 38th Street
Kyauktada Township, Yangon,
Myanmar

257451, H Phone 09-24981 Telex BM 21201 / 21236 TYM 1968 Fax (951) 89060 TYM 1008

သို့

မှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်မြို့ ။

ရက်စွဲ ၊ ၁၉၉၇ ခုနှစ် ၊ အောက်တိုဘာလ (၁၃) ရက် ။

အကြောင်းအရာ ။ ။ **ကုမ္ပဏီမတည်ရင်းနှီးငွေတိုးမြှင့်ခြင်းကိစ္စ ။**

ကျွန်တော်များ "တိုင်းရင်းမေအင်ဘာနေရှင်နယ်ကုမ္ပဏီလီမိတက်" အထူးအစည်းအဝေးကို (၁၀. ၁၀. ၉၇) ရက်နေ့တွင် ကုမ္ပဏီရုံးခန်း၌ ကျင်းပခဲ့ပြီး လက်ရှိမတည်ရင်းနှီးငွေ ကျပ် ၁၀၀၀၀၀၀၀/- (ကျပ်တစ်ဆယ်သန်းတိတိ ) မှ ကျပ် ၁၀၀၀၀၀၀၀၀/- ( ကျပ်သန်းတစ်ရာတိတိ ) သို့ တိုးမြှင့်ရန် အထူးဆုံးဖြတ်ချက်ချမှတ်ခဲ့ပါသည်။

ဤသို့ ရင်းနှီးငွေတိုးမြှင့်ခြင်းကိုလည်း ဤကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း အပိုဒ် (၅) က ခွင့်ပြုထားပါသည်။

သို့ပါ၍ ပူးတွဲပါ ကုမ္ပဏီ၏ အထူးအစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ဤကုမ္ပဏီ၏ မတည်ရင်းနှီးငွေကို ကျပ် ၁၀၀၀၀၀၀၀၀/- (ကျပ်သန်းတစ်ရာတိတိ) သို့ တိုးမြှင့်ခွင့်ပြုပါရန် လေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

လေး စား စွာ ဖြင့်

TAING YIN MAY INTERNATIONAL CO. LTD.
No............
Date.........
★MYANMAR★

U Hla Myint
Managing Director
TAING YIN MAY International Co., Ltd.

၂။ သို့ဖြစ်ပါ၍ ကော်မရှင်၏ဆုံးဖြတ်ချက်ကိုသိရှိနိုင်ပါရန်နှင့်လို အပ်သကဲ့သို့ဆက်လက်ဆောင်ရွက်နိုင်ရန်အကြောင်းကြားအပ်ပါသည်။

အတွင်းရေးမှူး (ကိုယ်စား)
(မောင်မောင်ငြိ၊ တွဲဖက်အတွင်းရေးမှူး)

<u>ပြည်ထဲရေးဝန်ကြီးဌာန။</u>

မိတ္တူကို -

၁။ ညွှန်ကြားရေးမှူးချုပ်
အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန။

၂။ အုပ်ချုပ်မှူးဒါရိုက်တာ
တိုင်းရင်းဖော့ကုမ္ပဏီ (ရှိုင်းဆောက်လုပ်ရေး)

* ငွေး * ၄-၉-၇၇။

အစေထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

နှင့်

တိုင်း ရင်း မေ အင် တာ နေ ရှင် နယ် ကုမ္ပဏီ လီမိတက်

တို့ အကြား

ချုပ်ဆိုသော

# မြေငှားရမ်းခြင်း သဘောတူစာချုပ်

# အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
# နှင့်
# တိုင်းရင်းမေ ကုမ္ပဏီ လီမိတက်(ရှိုင်းဆောက်လုပ်အဖွဲ့)
# တို့ အကြား ချုပ်ဆိုသော
# (တည်ဆောက်ခြင်း၊ လုပ်ဆောင်ခြင်း၊ လွှဲပြောင်းခြင်း) B.O.T စနစ်ဖြင့်
# မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)

ဤမြေငှားသဘောတူစာချုပ်ကို ၁၉၉၇ ခုနှစ်၊ လ ( ) ရက်နေ့တွင် ရန်ကုန်မြို့၌ ပြည်ထဲရေး ဝန်ကြီးဌာန၊ အထွေထွေအုပ်ချုပ်ရေး ဦးစီးဌာန ဆရာစံလမ်း၊ ဗဟန်းမြို့နယ် ရန်ကုန်မြို့ ကိုယ်စား၊ ညွှန်ကြားရေးမှူးချုပ် ဦးအောင်သိမ်း (နောင်တွင် "အငှားချထားသူ" ဟု ခေါ်ဆိုရမည် ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေအရ ဆက်ခံခွင့်ရှိသူများနှင့် တရားဝင်လွှဲအပ်ခြင်း ခံရသူပါဝင်သည်) က တစ်ဘက်

နှင့်

ရန်ကုန်တိုင်း၊ ကျောက်တံတားမြို့နယ်၊ ၃၈လမ်း၊ အမှတ် (၈၉)၊ ပထမထပ်တွင် တည်ရှိသော မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ မှတ်ပုံတင်ဖွဲ့စည်းထားသည့် မြန်မာနိုင်ငံသားပိုင်၊ တိုင်းရင်းမေ ကုမ္ပဏီ လီမိတက် (ရှိုင်းဆောက်လုပ်ရေးအဖွဲ့) ကိုယ်စား၊ ၎င်း၏ မန်နေဂျင်း ဒါရိုက်တာ ဦးလှမြင့် (နောင်တွင် "အငှားချထားခြင်း ခံရသူ" ဟု ခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ယင်းကုမ္ပဏီ၏ တရားဝင် ကိုယ်စားလှယ်များ၊ ဥပဒေအရ ဆက်ခံခွင့်ရှိသူများနှင့် တရားဝင်လွှဲပြောင်း ခံရသူများ ပါဝင်သည်) က တစ်ဘက်၊ နှစ်ဘက်သဘောတူ အောက်ပါစည်းကမ်းချက်များအညီ ဤစာချုပ်ကို ချုပ်ဆိုကြပါသည်–

## လုပ်ငန်း

(က) အငှားချထားသူသည် ရန်ကုန်တိုင်း ဆင်ခြေဖုံးဒေသဖြစ်သည့် ဗဟန်းမြို့နယ်၊ မြေတိုင်းရပ်ကွက် အမှတ် ၂–ဒီ၊ မြေကွက်အမှတ် ၄၆၈–ကေ၊ ဝင်္ကဘာလမ်း၊ စာပေစိစစ်ရေးရုံး မြေဧရိယာ ၁.၇၂၃ ဧကကို တရားဝင် ပိုင်ဆိုင်သူဖြစ်ပြီး ယင်းအနက် အကျယ်အဝန်း ၀.၁၆ဧက (၁၃၄' X ၅၂')ရှိ မြေကွက်အား အငှားချထားခြင်းခံရသူတို့ B.O.T စနစ်ဖြင့် အငှားချထားရန် နှစ်ဦးနှစ်ဖက် သဘောတူညီကြပါသည်။ အငှားချထားသည့် မြေပုံအား နောက်ဆက်တွဲ(က) အဖြစ် ပူးတွဲဖော်ပြထားပါသည်။

(ခ) အငှားချထားခြင်း ခံရသူသည် ဖော်ပြပါမြေပေါ်တွင် ၁၀၀% ရင်းနှီးမြှုပ်နှံ၍ ခေတ်မီလူနေအိမ် ၁၀ခန်းတွဲ၆ထပ် အဆောက်အအုံတစ်ခုကို မတည်ရင်းနှီးငွေ ကျပ် ၆၈၄ သိန်း (ကျပ် ခြောက်ရာရှစ်ဆယ် လေးသိန်းတိတိ) အကုန်အကျခံ၍ ဆောက်လုပ်မည် ဖြစ်ပါသည်။

## ၁။ အာမခံခြင်း (WARRANTY) နှင့် ကိုယ်စားပြုခြင်း (REPRESENTATION)

အငှားချထားသူနှင့် အငှားချထားခြင်း ခံရသူတို့သည် သက်ဆိုင်ရာ ဥပဒေများအရ ဤသဘောတူစာချုပ်ပါ လုပ်ငန်းကို လုပ်ကိုင်ခွင့်ရှိသော ပုဂ္ဂိုလ်များဖြစ်ကြောင်းနှင့် ဤစာချုပ်ကို ချုပ်ဆိုရန် အခွင့်အာဏာရှိသူနှင့် ငွေကြေးအင်အား တောင့်တင်းခိုင်မာသူဖြစ်ကြောင်း အသီးသီးတင်ပြတာဝန်ယူကြပါသည်။

၂။ စာချုပ်သက်တမ်း

ဤသဘောတူစာချုပ်အရ မြေငှားရမ်းကာလမှာ အနှစ် (၃၀)ဖြစ်ပြီး၊ ပမာဏစူးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ (၃)လနှင့် တည်ဆောက်ရေးကာလ (၁၅)၊ စုစုပေါင်း (၁၈)လပြည့်နေ့မှ ရေတွက်သတ်မှတ်ရမည်။ သို့ရာတွင် မြေငှားရမ်းကာလကို နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၃)ကြိမ်အထိ ထပ်မံတိုးမြှင့်နိုင်သည်။ ဤစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ဖော်ပြပါမြေကို အငှားချထားခြင်းခံရသူသို့ လွှဲပြောင်းပေးမည်။ အငှားချထားခြင်းခံရသူမှ တည်ဆောက်မည့် ခေတ်မီ ၁၀ခန်းတွဲဖြထပ် လူနေအဆောက်အအုံသည် အငှားချထားသူ၏ အတည်ပြုချက်ရရှိပြီးသော ပုံစံ၊ စံချိန်စံညွှန်းများနှင့်အညီ ဖြစ်ရမည်။ ယင်းပုံစံကို စံချိန်စံညွှန်းများကို နောက်ဆက်တွဲ(ခ) အဖြစ် ပူးတွဲဖော်ပြထားပါသည်။

၃။ မြေအသုံးချမှု ပရီမီယံ (LAND USE PREMIUM)

(က) အငှားချထားခြင်းခံရသူသည် မြေအသုံးချမှု ပရီမီယံ (LAND USE PREMIUM) အဖြစ်မြေအကျယ်အဝန်းအရ (၀.၁၆ဧက) ရှိသော မြေနေရာအတွက် ကျပ်ငွေ ၄၈၀သိန်းကို အငှားချထားသူသို့ ပေးရန်ဖြစ်သည်။ မြေအသုံးချမှု ပရီမီယံအတွက် ငွေကြေးပေးသွင်းမည့် အစားအငှားချထားခြင်းခံရသူက အငှားချထားသူသို့ (ပေ ၁၀၀' X ၄၅') အကျယ်အဝန်းရှိ ခြောက်ခန်းတွဲ သုံးထပ် အဆောက်အအုံတစ်လုံးနှင့် (ပေ ၁၀၀'X ၄၅') အကျယ်အဝန်းရှိ ခြောက်ခန်းတွဲလေးထပ်၊ အဆောက်အအုံတစ်လုံး စုစုပေါင်း အဆောက်အအုံ (၂)လုံးကို အငှားချထားသူပိုင်၊ ရန်ကုန်တိုင်း၊ အင်းစိန်မြို့နယ်၊ မင်းကြီးလမ်းရှိ မြေကွက်ပေါ်တွင် ငွေကျပ် ၄၈၀ သိန်း အကုန်အကျခံ၍ နှစ်ဦးနှစ်ဖက် သဘောတူညီထားသည့် ပုံစံ၊ စံချိန်စံညွှန်းများနှင့်အညီ ဆောက်လုပ်ပေးအပ် သွားမည် ဖြစ်ပါသည်။ အဆောက်အအုံပုံစံ ၂ခုကို နောက်ဆက်တွဲ(ဂ)နှင့် (ဃ) အဖြစ် ပူးတွဲထားပါသည်။

(ခ) ယင်းအဆောက်အအုံ (၂)လုံးအား ဆောက်လုပ်ရာတွင် အမှန်ကုန်ကျငွေသည် မြေအသုံးချမှု ပရီမီယံ ကြေးငွေထက်ပိုမို ကုန်ကျခဲ့ပါလျှင် မူလသဘောတူညီထားပြီးဖြစ်သည့် ပုံစံ၊ စံချိန်စံညွှန်းများနှင့်အညီ အငှားချထားခြင်း ခံရသူက တာဝန်ယူဆောက်လုပ်ပေးရမည်။

(ဂ) အငှားချထားခြင်းခံရသူသည် ဗဟန်းမြို့နယ်၊ ဝဏ္ဏဘာလမ်း၊ နောက်ဆက်တွဲ(က) မြေပေါ်ရှိ အဆောက်အအုံဟောင်းဖြစ်သော စတိုနှင့် မှတ်တမ်းရုံးမှ ပစ္စည်းများဖြင့် ယင်းမြေကွက်အတွင်း စတိုနှင့် မှတ်တမ်းရုံးခန်း အဆောက်အအုံသစ်တစ်လုံးကိုလည်း အငှားချထားသူအတည်ပြုထားသောပုံစံ၊ စံချိန်စံညွှန်းများအတိုင်း အခမဲ့ ဆောက်လုပ်ပေးရန်နှင့် ပိုလျှံသော ပစ္စည်းအဟောင်းများကို အငှားချထားခြင်းခံရသူက အခမဲ့ယူရန် နှစ်ဦးသဘောတူညီကြပါသည်။

၄။ မြေငှားရမ်းခ နှုန်းထားသတ်မှတ်ချက်

(က) အငှားချထားခြင်းခံရသူသည် မိမိအစီအစဉ်ဖြင့် ၁၀ခန်းတွဲ၆ထပ် အဆောက်အအုံကို ဆောက်လုပ်ရမည် ဖြစ်ပါသည်။ အသုံးပြုနိုင်မည့် ကြမ်းခင်းဧရိယာ ၂၄၅၆ စတုရန်းမီတာအတွက် တစ်နှစ်အတွက် စတုရန်းမီတာလျှင် ကျပ် ၉၀၀ နှုန်းဖြင့် တစ်နှစ် ကျပ် ၂၂၁၀၀၀၀ (ကျပ် နှစ်ဆယ့်နှစ်သိန်းတစ်သောင်းတိတိ) ကို အငှားချထားသူထံသို့ ပေးချေရမည်။

| | | | | |
|---|---|---|---|---|
| (GROUND Floor) | မြေညီထပ် | = | ၅၁၁.၉ | စတုရန်းမီတာ |
| (FIRST Floor) | ပထမထပ် | = | ၅၁၁.၉ | စတုရန်းမီတာ |
| (SECOND Floor) | ဒုတိယထပ် | = | ၅၁၁.၉ | စတုရန်းမီတာ |
| (3rd FLOOR TO 5th Floor) | တတိယထပ်မှ ပဥ္စမထပ်ထိ | = | ၁၅၃၅.၇ | စတုရန်းမီတာ |
| | စုစုပေါင်း | = | ၃၀၇၁.၄ | စတုရန်းမီတာ |
| | ဆို | = | ၃၀၇၁ | စတုရန်းမီတာ |
| | အသုံးပြုနိုင် ဧရိယာ | = | ၂၄၅၆ | စတုရန်းမီတာ |

(ခ) အငှားချထားခြင်းခံရသူသည် အငှားချထားသူအား (၁)နှစ်လျှင် တစ်ကြိမ်ငှားရမ်းခများကို ကြိုတင်ပေးချေရမည်။

(ဂ) အငှားချထားသူသည် ငှားရမ်းခနှုန်းထားများကို (၅)နှစ်တစ်ကြိမ် ပြန်လည်စိစစ်ခွင့် ရှိရမည်။ ထိုသို့ ပြင်ဆင်သတ်မှတ်သည့် နှုန်းထားသည် မည့်သည့်အခါတွင်မျှ ပြီးခဲ့သော (၅)နှစ်ကာလအတွက် သတ်မှတ်သည့်နှစ်စဉ်ငှားရမ်းခနှုန်းထား၏ ၁၅% ထက်မပိုစေရ။

## ၅။ ပျက်ကွက်ခြင်းတာဝန်

အငှားချထားခြင်းခံရသူသည် ငှားရမ်းခပေးသွင်းခြင်းကို ခိုင်လုံသော အကြောင်းပြချက်မရှိဘဲ (၃)လအထိ ပျက်ကွက်ပါက အငှားချထားသူသည် ငှားရမ်းခြင်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကောင်မရှင်၏ အတည်ပြုချက်ဖြင့် တစ်ဖက်သတ်ရပ်ဆိုင်းခွင့်ရှိသည်။

## ၆။ အငှားချထားသူ၏ တာဝန်များ

အငှားချထားသူသည် အောက်ပါတို့ကို လိုက်နာဆောင်ရွက်ရန် တာဝန်ရှိသည်။

(က) အငှားချထားခြင်းခံရသူက စာချုပ်ပါ လုပ်ငန်းများကို အကောင်အထည်ဖော်နိုင်ရန်အတွက် တတ်နိုင်သမျှကူညီဖြည့်ဆည်းပေးရမည်။

(ခ) လိုအပ်သော ခွင့်ပြုချက်များ၊ မှတ်ပုံတင်မှုများ၊ လိုက်စင်များကို သက်ဆိုင်ရာ ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းများထံမှ ရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(ဂ) ဆောက်လုပ်ပြီးစီးသော အဆောက်အအုံကို အငှားချထားခြင်းခံရသူက တည်ဆဲဥပဒေများနှင့်အညီ ထပ်ဆင့်ငှားရမ်းခြင်းကို ခွင့်ပြုရမည်။

(ဃ) ငှားရမ်းထားသည့် မြေအတွက် မြေခွန်ကို ပေးဆောင်ရမည်။

(င) အငှားချထားခြင်းခံရသူက မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်သက်သာခွင့်နှင့် ကင်းလွတ်ခွင့်များလျှောက်ထားရာတွင် ကူညီဆောင်ရွက်ပေးရမည်။

## ၇။ အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ

အငှားချထားခြင်းခံရသူသည် အောက်ပါတို့ကို လိုက်နာဆောင်ရွက်ရန် တာဝန်ရှိသည်-

(က) ငှားရမ်းသည့်မြေပေါ်တွင် သတ်မှတ်ကာလအတွင်း အငှားချထားသူအတည်ပြုပြီးသော ပုံစံ ဒီဇိုင်းအတိုင်း ခေတ်မီ ဖြထပ်အဆောက်အအုံကို မိမိစရိတ်ဖြင့် တည်ဆောက်ရမည်။ အတည်ပြုပြီးသော ပုံစံဒီဇိုင်းမှ အဓိကပြောင်းလဲပြင်ဆင်တိုးချဲ့မှုတိုင်းကို အငှားချထားသူထံမှ ကြိုတင် သဘောတူညီချက်ရပြီးမှသာ ဆောင်ရွက်ခွင့်ရှိသည်။

(ခ) အငှားချထားခြင်းခံရသူသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပြီး နောက် ဤစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှစ၍ လုပ်ငန်းများကို စတင်ဆောင်ရွက်ရမည်။

(ဂ) အငှားချထားခြင်းခံရသူသည် အငှားချထားသူ(သို့မဟုတ်) ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ အဖွဲ့အစည်းများသို့ ဤစာချုပ်အရ အကျိုးဝင်သော လုပ်ဆောင်ချက်များနှင့် ပတ်သက်သည့် သတင်းအချက်အလက်များကို အကြောင်းအားလျော်စွာ တောင်းခံလာတိုင်း ပြုစုတင်ပြရမည်။

(ဃ) အငှားချထားခြင်းခံရသူသည် (၆)ထပ် အဆောက်အအုံရှိ အခန်းများကို တည်ဆဲဥပဒေများ၊ ညွှန်ကြားချက်များနှင့်အညီ ရောင်းချရာတွင် (အခန်းဝယ်ယူသူအား အခန်းအသုံးပြုခွင့် ရောင်းချခြင်းသာဖြစ်ကြောင်း) အရောင်းစာချုပ်တွင် အတိအကျ ဖော်ပြထားရမည်။ (အငှားချထားခြင်းခံရသူသည် အခန်းများကို နိုင်ငံခြားသား (သို့မဟုတ်) နိုင်ငံခြားသားပိုင် ကုမ္ပဏီသို့ တစ်နှစ်ထက် ကျော်လွန်၍ ထပ်ဆင့်ငှားရမ်းမည်ဆိုပါက ၁၉၈၇ ခုနှစ်၊ မရွှေ့မပြောင်းနိုင်သော ပစ္စည်းများ လွှဲပြောင်းခြင်းကို ကန့်သတ်သည့်ဥပဒေပုဒ်မ ၁၄အရ သက်ဆိုင်ရာ ဝန်ကြီးဌာနက ထုတ်ပေးသော ကင်းလွတ်ခွင့်ပြုသည့် အမိန့်ကို ရရှိပြီး ဖြစ်ရမည်။)

(င) အငှားချထားခြင်းခံရသူသည် အဆိုပါ အဆောက်အအုံရှိ အခန်းများအား ရောင်းချခြင်း၊ ငှားရမ်းခြင်း၊ ပြုလုပ်ရာတွင် မြေငှားသတ်တမ်း ကုန်ဆုံးချိန်အထိသာ အကျိုးခံစားခွင့်ရှိကြောင်းကိုလည်းကောင်း၊ ထို့အပြင် အဆိုပါ အခန်းများကို ဝယ်ယူထားသူ/ ငှားရမ်းထားသူသည် မြေငှားသက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက် ပိုင်ဆိုင် အကျိုးခံစားခွင့် ရရှိလိုပါက အငှားချထားသူ(မြေရှင်)နှင့် နှစ်ဖက်သဘောတူစာချုပ် တစ်ရပ် ထပ်မံ ချုပ်ဆိုရမည်ဖြစ်ကြောင်းကိုလည်းကောင်း၊ သက်ဆိုင်ရာ ရောင်းချခြင်း/ ငှားရမ်းခြင်း စာချုပ်များတွင် အတိအကျ ဖော်ပြထားရမည်။

(စ) အငှားချထားခြင်းခံရသူသည် ငှားရမ်းထားသည့်မြေ၏ တစ်စိတ်တစ်ဒေသကိုသော် လည်းကောင်း၊ မြေကွက်တစ်ခုလုံးကို သော်လည်းကောင်း၊ ထပ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ အခြားနည်းဖြင့် လွှဲပြောင်းပေးခြင်း တို့ကို အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ လုံးဝမပြုလုပ်ရ။

(ဆ) မြေခွန်အပ အခြားသက်ဆိုင်ရာ အခွန်အခများအားလုံးကို အငှားချထားခြင်းခံရသူက ပေးဆောင်ရမည်။

(ဇ) အငှားချထားခြင်းခံရသူသည် လုပ်ငန်းအတွက် လိုအပ်သော အာမခံများကို တည်ဆဲဥပဒေများနှင့်အညီ ထားရှိရမည်။

(ဈ) မြေငှားရမ်းခများကို သတ်မှတ်ထားသောနှုန်းထား၊ သတ်မှတ်ထားသော နည်းလမ်းများအတိုင်း အတိအကျ ပေးဆောင်ရမည်။

## ၈။ စာချုပ်စတင် အကျိုးသက်ရောက်သည့်နေ့

ဤစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူခွင့်ပြုချက် ရရှိပြီးနောက်၊ အသိသက်သေများ ရှေ့မှောက်တွင် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

## ၉။ မြေနှင့် အဆောက်အုံပြန်လည် လွှဲပြောင်းပေးအပ်ခြင်း

ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းကာလကုန်ဆုံးသည့်အခါ အငှားချထားခြင်း ခံရသူသည် မြေနှင့်တကွ ယင်းမြေပေါ်ရှိ အဆောက်အအုံအပါအဝင် အဆောက်အအုံနှင့် ဆက်စပ်ပတ်သက်နေသော ပစ္စည်းများကို မွမ်းမံထားရှိပြီး ကောင်းမွန်စွာ ပုံမှန်အသုံးပြုနိုင်သည့် အခြေအနေအတိုင်း အငှားချထားသူသို့ အဖိုးစားနားမပါရှိပဲ(၃)လအတွင်း ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

## ၁၀။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်

ဤမြေငှားခြင်း သဘောတူစာချုပ်ကို ဆောင်ရွက်ခြင်းနှင့် အကောင်အထည်ဖော်ခြင်းတို့သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ အဖွဲ့အစည်းများထံမှ လိုအပ်သည့် သဘောတူညီချက်၊ ခွင့်ပြုချက်နှင့် လုပ်ဆောင်ခွင့်ပြုချက်များ ရရှိပြီးမှပေါ်တွင် တည်ရှိပါသည်။

## ၁၁။ စာချုပ်ရပ်စဲခြင်း

အောက်ဖော်ပြပါ အခြေအနေအဖြစ်အပျက်များအနက် တစ်ရပ်ရပ် ပေါ်ပေါက်သည့်အခါတွင် စာချုပ်ရပ်စဲသွားစေရမည်

(က) စာချုပ်တွင် တစ်ဖက်ဖက်က စာချုပ်ပါ စည်းကမ်းချက်များကို ဖောက်ဖျက်သည့်အခါ

(ခ) အငှားချထားခြင်း ခံရသူသည် လူမွဲဖြစ်ခံယူသည့်အခါ

(ဂ) မတားဆီးနိုင်သော ဖြစ်ရပ်တစ်ခုသည် ၆လထက်ပိုမို ဖြစ်ပွားနေသောအခါ

(ဃ) စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ

(င) စာချုပ်ကိုရပ်စဲရန် နှစ်ဦးနှစ်ဖက်က စာဖြင့်ရေးသားသဘောတူသည့်အခါ

၁၂။ အထက်ဖော်ပြပါ အကြောင်းများကြောင့် စာချုပ်ရပ်စဲသည့်အခါ စာချုပ်ရပ်စဲပြီးနောက် (၆)လအတွင်း မြေနှင့်တကွ အဆောက်အအုံအပါအဝင် မြေပေါ်ရှိ အဆောက်အအုံအားလုံးတို့ကို ကောင်းမွန်သော အနေအထားဖြင့် အငှားချထားခြင်းခံရသူက အငှားချထားသူသို့ အဖိုးစားနားမဲ့ ပြန်လည်ပေးအပ်ရမည်။

## ၁၃။ မတားဆီးနိုင်သော ဖြစ်ရပ်များ

ဤသဘောတူစာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်ဝတ္တရားများကို မတားဆီးနိုင်သော ဖြစ်ရပ်ကြောင့် တစ်စိတ်တစ်ဒေသဖြစ်စေ၊ လုံးဝဖြစ်စေ၊ မထမ်းဆောင်နိုင်လျှင် ထိုသို့မထမ်းဆောင်သူဖက်က အခြားတစ်ဖက်သို့ (၁၄)ရက်အတွင်း၊ ထိုမတားဆီးနိုင်သော ဖြစ်ရပ်ကို အသေးစိတ်စာဖြင့် ရေးသားကာ အကြောင်းကြားရမည်။ အခြားတစ်ဖက်က လက်ခံအတည်ပြုလျှင် တာဝန် ဝတ္တရားများ ထမ်းဆောင်ခြင်းကို မတားဆီးနိုင်သော ဖြစ်ရပ်ပေါ်ပေါက်နေစဉ်ကာလအတွင်း ဆိုင်းငံ့ထားနိုင်သည်။ ထိုမတားဆီးနိုင်သော ဖြစ်ရပ်ကြောင့် ကြန့်ကြာမှုအတွက် မည်သူတွင်မှ တာဝန်မရှိစေရ။

"မတားဆီးနိုင်သောဖြစ်ရပ်" ဆိုသည်မှာ သဘာဝဘေးဒုက္ခများ၊ ငလျင်လှုပ်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပြည်သူ့ရန်သူ၏ လုပ်ဆောင်ချက်များလ၊ ပိတ်ဆို့မှုများ၊ သူပုန်ထခြင်းများ၊ အဓိကရုဏ်းဖြစ်ခြင်းများ၊ အရပ်ဖက် နှောင့်ယှက်ဖျက်ဆီးခြင်းများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်းများ၊ ရေကြီးခြင်းများ၊ မုန်တိုင်းတိုက်ခတ်ခြင်းများနှင့် အခြားအလားတူအကြောင်းများဖြစ်ပြီး၊ ထိုက်သင့်သော ဂရုစိုက်မှု၊ ဖွဲ၊ လုံ့လတို့နှင့် ထိန်းချုပ်၍မရဘဲကျော်လွန်သွားရန် မတတ်စွမ်းနိုင်သော ဖြစ်ရပ်များကို ဆိုလိုသည်။

### ၁၄။ အနညာတစီရင်ဆုံးဖြတ်ခြင်း

ဤသဘောတူစာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီခန့်ထားသော ခုံလူကြီး နှစ်ဦးဖြင့်ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးကဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကိုခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံ အနညာတစီရင် ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံအက်ဥပဒေ အမှတ် ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့် အညီဖြစ်စေရမည်။ အနညာတစီဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအထွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

### ၁၅။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

အငှားချထားခြင်းခံရသူသည် ရေဆိုးများ သန့်စင်စေရန် စီမံခြင်း၊ ရေလွတ်စနစ်ရှိခြင်းတို့ကို ပြည်ထောင်စုမြန်မာနိုင်ငံတော်ဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်အတွက် အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

### ၁၆။ ဓာတ်သတ္တုအရင်းအမြစ်များ

ဤသဘောတူစာချုပ်ပါ ငှားရမ်းကာလအတွင်း ငှားရမ်းထားသည့်မြေမှ မမျှော်လင့်ဘဲဓာတ်သတ္တု အရင်းအမြစ်များ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းပစ္စည်းများ တွေ့ရှိလျှင် ထိုပစ္စည်းများကို အငှားချထားသူက ပိုင်ဆိုင်ရမည့်အပြင် အငှားချထားသူသည် သက်ဆိုင်ရာ နိုင်ငံတော်အစိုးရအဖွဲ့အစည်းသို့ လွှဲပြောင်းတင်ပြခွင့် ရှိစေရမည်။ ထို့အပြင် အဆိုပါပစ္စည်းများကို မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာ တူးဖော်ရယူခွင့်ရှိစေရမည်။

### ၁၇။ စာချုပ်ကို ပြင်ဆင်ဖြည့်စွက်ခြင်း

ဤသဘောတူစာချုပ်ကို စာဖြင့် နှစ်ဦးနှစ်ဖက် သဘောတူညီမှုမရှိဘဲပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း၊ လုံးဝမပြုလုပ်ရ။ ဤသဘောတူစာချုပ်တွင် မဖော်ပြမိခဲ့သော အချက်အလက် (သို့မဟုတ်) အခြေအနေတစ်ရပ်ရပ် ပေါ်ပေါက်ပြီး စာချုပ်ကိုပြင်ဆင်ရန် လိုအပ်ပါက နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် ဤစာချုပ်ကို ပြင်ဆင်နိုင်သည်။ သို့သော် စာချုပ်၏ မူလရည်ရွယ်ချက်ကို မပျက်ပြယ်စေရ။ စာချုပ်ကိုပြင်ဆင်ဖြည့်စွက်ခြင်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်စေရမည်။

### ၁၈။ စာချုပ်အစိတ်အပိုင်းများ

ဤမြေငှားရမ်းခြင်း သဘောတူစာချုပ်နှင့် အတူပူးတွဲထားသော နောက်ဆက်တွဲများသည် ဤစာချုပ်၏ အစိတ်အပိုင်းများ ဖြစ်စေရမည်။

### ၁၉။ မြေပေါ်သို့ ပြန်လည်ဝင်ရောက်ပိုင်ခွင့်

အငှားချထားခြင်းခံရသူအနေဖြင့် စာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ လုပ်ငန်းဆောင်ရွက်ရန် ပျက်ကွက်ပါက အငှားချထားသူက ငှားရမ်းသည့်မြေပေါ်သို့ အချိန်မရွေး လွတ်လပ်စွာ ဝင်ရောက်ခွင့် ရှိစေရမည့်အပြင် မြေငှားရမ်းခြင်း သဘောတူစာချုပ်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် ရပ်စဲစေရမည်။

၂၀။ **စာပေးစာယူပြုရန် လိပ်စာများ**

အငှားချထားခံရသူအနေဖြင့် အငှားချထားခံရသူတို့အကြား စာဆက်သွယ်ခြင်း အကြောင်းကြားစာ ပေးပို့ခြင်းများကို အောက်ပါအတိုင်း ဆက်သွယ်ဆောင်ရွက်ရမည် -

| | |
|---|---|
| အငှားချထားသူအတွက် | ညွန်ကြားရေးမှူးချုပ်<br>အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန<br>ဆရာစံလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| အငှားချထားခြင်းခံရသူအတွက် | အုပ်ချုပ်မှုဒါရိုက်တာ<br>တိုင်းရင်းမေအင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်<br>အမှတ် ၉၈၊ ပထမထပ် (၃၈)လမ်း<br>ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့ |

အထက်ဖော်ပြပါ အချက်အလက်များကို သိရှိသဘောပေါက် နားလည်ပြီးသည့်အလျောက်၊ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် ဤသဘောတူစာချုပ်အထက်တွင် ဖော်ပြထားသော ၁၉၉၇ ခုနှစ် လ ရက်နေ့၌ မိမိတို့၏ လက်မှတ်များနှင့် တံဆိပ်များကို အောက်တွင် ရေးထိုးရိုက်နှိပ်ကြပါသည်။

| **အငှားချထားသူကိုယ်စား** | | **အငှားချထားခြင်းခံရသူ** | |
|---|---|---|---|
| လက်မှတ် | ------------------ | လက်မှတ် | ------------------ |
| အမည် | ------------------ | အမည် | ------------------ |
| မှတ်ပုံတင်အမှတ် | ------------------ | မှတ်ပုံတင်အမှတ် | ------------------ |
| ရာထူးအဆင့် | ------------------ | ရာထူးအဆင့် | ------------------ |

**အသိသက်သေများ**

| | | | |
|---|---|---|---|
| ၁။ | ------------------ | ၂။ | ------------------ |
| အမည် | ------------------ | အမည် | ------------------ |
| ရာထူး | ------------------ | ရာထူး | ------------------ |
| လိပ်စာ | ------------------ | လိပ်စာ | ------------------ |

# R.C. ၃-ထပ် ဌာနဆိုင်ရာအဆောက်အဦပုံ



Front Elevation

Scale 1/8" = 1'0"

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၁၀၁/ ၉၇ ၁၉၉၇ ခုနှစ်၊ ဒီဇင်ဘာ လ ၁၆ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးလှမြင့်

(ခ) အဘအမည် ဦးထွန်းငွှန်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ကတတ(နိုင်)၀၀၃၂၄၃

(ဃ) နေရပ်လိပ်စာ အမှတ် ၇၉၊ ၃၇လမ်း၊ (ပထပ်-ယာ)
ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း တိုင်းရင်းမေအင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် (Taing Yin May International Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ရုံးခန်း၊လူနေအိမ်ခန်းနှင့် ဈေးဆိုင်ခန်းများပါဝင်သော စီးပွားရေးအဆောက်အအုံ ဆောက်လုပ်ငှားရမ်းခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ် ၄၆၇ ဧ၊ မြေတိုင်း ရပ်ကွက်အမှတ် ၂-ဒီ၊ ဝက်ဘာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့
(စာပေစိစစ်ရေး ရုံးဝင်း)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၉၂.၂၀)သန်း
(ကျပ်ကိုးဆယ့်နှစ်သန်း နှစ်သိန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊၄ ၉ /၉၇
ရန်ကုန်မြို့၊ ၁၃၅၉ ခုနှစ်၊ နတ်တော် လပြည့်ကျော် ၂ ရက်။
(၁၉၉၇ ခုနှစ်၊ ဒီဇင်ဘာလ၁၆ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော တိုင်းရင်းမေ အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Taing Yin May International Co., Ltd.) သည် ပြည်ထဲရေး ဝန်ကြီးဌာန၊ အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာနပိုင် မြေကွက်အမှတ် ၄၆၈ ကော၊ မြေတိုင်းရပ်ကွက်အမှတ် ၂-ဒီ၊ ဝဏ္ဏဘာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့ရှိ (စာပေစိစစ်ရေး ရုံးဝင်း) မြေ (၀.၁၆) ဧက (၆၄၇.၅၀ စတုရန်းမီတာ)မြေကွက်အား၊ ကနဦး နှစ်(၃၀) ငှါးရမ်း၍ (B.O.T) စံနစ်ဖြင့် (၆)ထပ် အဆောက်အဦ ဆောက်လုပ်ကာ ရုံးခန်း၊ လူနေအိမ်ခန်း နှင့် ဈေးဆိုင်ခန်းများ ပါဝင်သော စီးပွားရေး အဆောက်အအုံ ဆောက်လုပ် ငှါးရမ်းခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၁-၁၁-၉၇) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၉/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက် နှင့်အညီ (၄-၁၂-၉၇) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ အဖွဲ့၏ (၃/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် တိုင်းရင်းမေ အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Taing Yin May International Co., Ltd.)အား ရုံးခန်း၊ လူနေအိမ်ခန်း နှင့် ဈေးဆိုင်ခန်းများ ပါဝင်သော စီးပွားရေး အဆောက်အအုံ ဆောက်လုပ် ငှါးရမ်းခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၀၁/၉၇ ကို ထုတ်ပေးလိုက်သည်။

၂။ တိုင်းရင်းမေ အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Taing Yin May International Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှုလုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့်

ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင် အထည် ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံးမတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ် သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန် တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၁၃(ဇ)အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

(ဃ) အထက်အပိုဒ် (က) ပါ နည်းလမ်းများဖြင့် ပြည်ပမှ ပစ္စည်းများ တင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြုလုပ်ငန်းမှ ရရှိသည့် နိုင်ငံခြား ငွေဖြင့်သာ ပေးဆပ်ရန်။

၄။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေအငှားချထားသူ အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာန နှင့် အငှား ချထားခြင်းခံရသူ တိုင်းရင်းမေ အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Taing Yin May International Co., Ltd.) တို့ ချုပ်ဆိုမည့် (B.O.T) စံနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ် လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်း သဘောတူ စာချုပ် မိတ္တူ (၅) စောင်ကို ဤ ကော်မရှင်သို့ တင်ပြရမည်။

၅။ ပြည်ထဲရေး ဝန်ကြီးဌာန၊ အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာန နှင့် တိုင်းရင်းမေ အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Taing Yin May International Co., Ltd.) တို့ ချုပ်ဆိုမည့် (B.O.T) စံနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူ စာချုပ်၏ သက်တမ်းကာလမှာ ကနဦး အနှစ်(၃၀) ဖြစ်ပြီး၊ ပဏာမ စူးစမ်း လေ့လာမှု ပြုလုပ်မည့် ကာလ (၃)လ နှင့် တည်ဆောက်ရေး ကာလ (၁၅)လ စုစုပေါင်း (၁၈)လ ပြည့်သည့်နေ့မှစ၍ ရေတွက်ရန် နှင့် မြေငှါးရမ်း ကာလကို နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် တစ်ကြိမ်လျှင် (၅)နှစ် စီဖြင့် (၃)ကြိမ် အထိ တိုးမြှင့် ခွင့်ပြုသည်။

၆။ တိုင်းရင်းမေ အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Taing Yin May International Co., Ltd.) သည်၊ မြေအသုံးချခွင့် ပေးငွေအဖြစ် အင်းစိန်မြို့နယ်၊ မင်းကြီးလမ်းရှိ မြေကွက်ပေါ်တွင် (၁၀၀ပေ × ၄၅ပေ) အကျယ်ရှိ ခြောက်ခန်းတွဲ သုံးထပ် အဆောက်အဦ တစ်လုံး နှင့် (၁၀၀ပေ × ၄၅ပေ) အကျယ်ရှိ ခြောက် ခန်းတွဲ လေးထပ်အဆောက်အဦ တစ်လုံး စုစုပေါင်း ကျပ်(၄၈)သန်း နှင့် ညီမျှသော အဆောက်အဦ နှစ်လုံးကို နှစ်ဦးသဘောတူ သတ်မှတ်သည့် စံချိန်စံညွှန်းများနှင့်အညီ ဆောက်လုပ် ပေးရမည်။

၇။ တိုင်းရင်းမေ အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Taing Yin May International Co., Ltd.) သည်၊ နှစ်စဉ် မြေငှားရမ်းခ အဖြစ် တစ်စတုရန်းမီတာလျှင် ကျပ် ၉၀၀ နှုန်းဖြင့် အသုံးပြုနိုင်သည့် ကြမ်းခင်း ဧရိယာ ၂၄၅၆ စတုရန်းမီတာ အတွက် စုစုပေါင်း နှစ်စဉ် ငှါးရမ်းခ ကျပ် ၂.၂၁ သန်းကို နှစ်စဉ် ကြိုတင် ပေးသွင်းရမည်။

၈။ နှစ်စဉ် ငှါးရမ်းခများကို ကြိုတင် ပေးချေရာတွင် ခိုင်လုံသော အကြောင်းပြချက် မရှိဘဲ (၃)လအထိ ပျက်ကွက်ပါက ငှားရမ်းခြင်းကို အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာနမှ တစ်ဘက်သတ် ရပ်ဆိုင်းခွင့်ရှိသည်။

၉။ ငှါးရမ်းခ နှုန်းထားများကို (၅)နှစ် တစ်ကြိမ် ပြန်လည် စိစစ်ရန် နှင့် ထိုသို့ စိစစ်ရာတွင် မူလ ငှါးရမ်းခ ၏ (၁၅) ရာခိုင်နှုန်း ထက်မပိုသော နှုန်းထားဖြင့် ပြန်လည် စိစစ်ရမည်။

၁၀။ ငှါးရမ်းကာလ ကုန်ဆုံးသည့်အခါ တိုင်းရင်းမေ အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Taing Yin May International Co., Ltd.)သည်၊ မြေနှင့်တကွ အဆောက်အဦ အပါအဝင် အဆောက်အဦ နှင့် ဆက်စပ် ပတ်သက်နေသော ပစ္စည်းအားလုံးကို မွမ်းမံထားရှိပြီး၊ ကောင်းမွန်စွာ ပုံမှန် အသုံးပြု နိုင်သည့် အခြေအနေအတိုင်း အငှားချထားသူ အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာနသို့ အဖိုးစားနားမဲ့ လွှဲပြောင်းပေး ရမည်။

၁၁။ တိုင်းရင်းမေ အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Taing Yin May International Co., Ltd.) သည် နိုင်ငံခြားသားများ သို့မဟုတ် နိုင်ငံခြား ကုမ္ပဏီများသို့ အခန်းများကို ငှားရမ်းရာတွင် အခန်း အသုံးပြုခွင့်

(Leasehold interest) ကိုသာ ငှားရမ်းရမည်။ ထို့အပြင် ၁၉၈၇ခုနှစ်၊ မရွှေ့ပြောင်းနိုင်သော ပစ္စည်းများ လွှဲပြောင်းခြင်းကို ကန့်သတ်သည့် ဥပဒေ ပုဒ်မ၅၊ ပုဒ်မခွဲ(က) အရ တစ်ကြိမ်လျှင် တစ်နှစ်ထက် ပို၍ အငှားချထားခြင်း မပြုရသည့်အပြင် အငှားချထားခြင်း ခံရသူ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား ကုမ္ပဏီက အခြားတစ်ဦးတစ်ယောက်သို့ ထပ်ဆင့်ငှားရမ်းခြင်း (Sub-Lease)၊ လွှဲပြောင်းခြင်း (Transfer) တို့ကို ပြုလုပ်ခွင့် မရှိကြောင်း အငှားစာချုပ်တွင် ထည့်သွင်းချုပ်ဆိုရမည်။

၁၂။ ရင်းနှီးမြှုပ်နှံသူ အနေဖြင့် မြေအသုံးပြုမှု နှင့် ပတ်သက်၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ တိုင်းရင်းမေ အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Taing Yin May International Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှုထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိ ပြုထားသည့်အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။

၁၅။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့်နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး အစီရင်ခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြု လုပ်ငန်း စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟုမှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၁၆၈/၉၇ (၁၆၃၉)
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ ဒီဇင်ဘာလ ၁၆ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။

၃။ အစိုးရအဖွဲ့ရုံး။

၄။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၅။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၆။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၇။ ပြည်ထဲရေး ဝန်ကြီးဌာန။
၈။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၉။ အလုပ်သမား ဝန်ကြီးဌာန။
၁၀။ ဥက္ကဋ္ဌ၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီ။
၁၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၂။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၃။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၄။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၁၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာန။
၂၁။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၂။ အုပ်ချုပ်မှု ဒါရိုက်တာ၊ တိုင်းရင်းမေ အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Taing Yin May International Co., Ltd.)။

အ မိန့် အ ရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

Appraisal
9.1.'97

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Tel : 272052, 272870, 272912
Fax : 095-01-282101

စာအမှတ်၊ ရက-၁/မ-၁၆၈/၉၇ (၁၈၂၉)
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဇန်နဝါရီလ ၇ ရက်။

အကြောင်းအရာ။ လုပ်ငန်းသုံးအတွက် မော်တော်ယာဉ်များ တင်သွင်းရန် ကိစ္စ။

၁။ တိုင်းရင်းမေ အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Taing Yin May International Co., Ltd.) မှ ရုံးခန်း၊ လူနေအိမ်ခန်း၊ ဈေးဆိုင်ခန်းများပါဝင်သော စီးပွားရေး အဆောက်အအုံ ဆောက်လုပ် ငှားရမ်းခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၉/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးမှ လုပ်ငန်းအတွက် မော်တော်ယာဉ်များ တင်သွင်းမှုနှင့်ပတ်သက်၍ တည်ဆောက်ရေး ကာလ အတွင်း Saloon 1(one) No., Pick-up 1(one) No. and Truck 1(one) No. တို့ကို အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် လည်းကောင်း၊ လုပ်ငန်း စတင်ဆောင်ရွက်သည့် အချိန်တွင် Saloon 1(one) No., Pick-up 1(one) No. and Truck 1(one) No. တို့ကို အခွန်အကောက် (၅၀)ရာခိုင်နှုန်း သက်သာခွင့်ဖြင့် လည်းကောင်း တင်သွင်းခွင့်ပြုကြောင်းနှင့် တင်သွင်းမည့် စက်ပစ္စည်းများ စာရင်းများအနက် Lift 4 Units ကို တင်သွင်းခွင့် ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါဆုံးဖြတ်ချက်ကိုလိုအပ်သလို ဆောင်ရွက်နိုင်ရန်နှင့်မော်တော်ယာဉ်များ တင်သွင်းရာတွင် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနသို့ လုပ်ထုံးလုပ်နည်းများနှင့်အညီ သွင်းကုန်လိုင်စင် လျှောက်ထား ရယူရန် လိုအပ်ကြောင်း အကြောင်းကြားအပ်ပါသည်။

( မောင်ဒမောင်ရှိ )
ဟဲ့ဖက်အတွင်းရေးမှူး

<u>အုပ်ချုပ်မှု ဒါရိုက်တာ</u>
<u>တိုင်းရင်းမေ အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်။</u>

မိတ္တူကို -

(၁) စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
(၂) ဘဏ္ဍာရေး နှင့် အခွန် ဝန်ကြီးဌာန။
(၃) ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ် (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန)။
(၄) ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
(၅) ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
(၆) ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
(၇) ညွှန်ကြားရေးမှူးချုပ်၊ အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာန။

